


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်



ခွင့်ပြုမိန့်အမှတ်၊ မနသ-........၆၂၆/၂၀၀၃ ။ ၂၀၀၃ ခုနှစ်၊ မေ လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးမောင်မွေး (ခ) တန်ကောက်ဝေ

(ခ) အဘအမည် ဦးမောင်ရွှေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၁၆၂၄၆

(ဃ) နေရပ်လိပ်စာ အမှတ်(၂၂၃)(ဒုတိယထပ်)၃၇လမ်း၊ ကျောက်တံတား မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...ရူပါဖရင်း(န်)ရှစ်(ပ်) ကုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Super Friendship Manufacturing Co.,Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊မြင်းဝန်ဦးအောင်သုလမ်း၊ မြေကွက်အမှတ်(၁၆၃)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၆.၃၆)သန်း(ကုဗ်တစ်ဆယ့်ခြောက်သန်းသုံးသိန်းခြောက်သောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၃ /၂၀၀၃ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၅ ခုနှစ်၊ ကဆုန်လဆန်း ၇ ရက်
(၂၀၀၃ ခုနှစ်၊ မေလ ၇ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးဝင်းတင်၊ ဦးဝင်းဌေး၊ ဦးအေးနိုင်၊ ဦးဝင်းသိန်း၊ဒေါ်သန်းသန်းဝင်းနှင့် ဒေါ်ခင်ခင်ဝင်း တို့အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာ မြို့နယ်၊ စက်မှုဇုန်(၂)၊ မြင်းဝန်ဦးအောင်သူလမ်း၊ မြေကွက်အမှတ် (၁၆၃)ရှိ မြေ (၁.၀၉၃)ဧက အနက်မှ (၀.၁၈) ဧက (၇၂၈.၄၃ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ လုပ်ငန်းဆောင်ရွက်လျှက် ရှိသော CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ အထည်ချုပ် လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ တစ်ဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၁၄-၃-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၈-၃-၂၀၀၃)နေ့တွင် ကျင်းပ ပြုလုပ်သော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၀/၂၀၀၃)အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ ယင်း အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၄-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၃/၂၀၀၃) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆက်လက် ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၂၆/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင် ခွင့်ပြုသည့် ( ၇ -၅-၂၀၀၃) နေ့မှအစပြု၍ တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင် အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန် သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်း များနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပ တင်ပို့မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် လုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အမှန်တကယ် ချုပ်ခရငွေများကို မြန်မာ့ နိုင်ငံခြား ကုန်သွယ်မှုဘဏ်/မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် အမှန်တကယ် ချုပ်ခရငွေ (နိုင်ငံခြားငွေ)များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင် FEC လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများပေးရမည်။

၆။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ် သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၉။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာ စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားရှိမှု အခြေအနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယား များဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၁။ ဤကော်မရှင်မှ တရားဝင်ခွင့်ပြုသည့် (၇ -၅-၂၀၀၃)နေ့ကို စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) ၏ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့အဖြစ် သတ်မှတ်သည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို ဆက်လက် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်) တို့ပြောင်းလဲမှုရှိတိုင်း ဤ ကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကိုပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်း နည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )
ဝန်ကြီး

စာအမှတ်၊ ရက-၁/မ-၉၀၄/၂၀၀၃ (၅ ၆ ၀ - ၈)
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မေလ ၇ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေး ဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှု ဝန်ကြီးဌာန)
၁၅။ ဥက္ကဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၆။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ မန်နေးဂျင်း ဒါရိုက်တာ၊ စူပါဖရင်း(န်) ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd)။

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ၇က-၁/မ-၁၃၈၆/ ၂၀၀၃ ( ၁၉ ၇ )။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဧပြီလ ၉ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ စူပါ ဖရင်း(န်)ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (လုပ်ငန်းအဟောင်း)မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါ ဖရင်း(န်)ရှစ်(ပ်) ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၄-၃-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ (၂၈-၃-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၀/၂၀၀၃) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထား ပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၁၆.၃၆)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာ များ ကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုထားပါသည်။

၃။ ယင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးဝင်းတင်၊ ဦးဝင်းဌေး၊ ဦးအေးနိုင်၊ ဦးဝင်းသိန်း၊ ဒေါ်သန်းသန်းဝင်းနှင့် ဒေါ်ခင်ခင်ဝင်း တို့ အမည်ဖြင့် အသုံးပြုခွင့် ရရှိ ထားသော အမှတ် (၁၆၃)၊ မြင်းဝန် ဦးအောင်သုလမ်း၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ရှိ မြေ(၁.၀၉၃)ဧက အနက်မှ (၀.၁၈)ဧက (၇၂၈.၄၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

လျှို့ဝှက်

R - ၃၀၁၄
၁၁/၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၄၆/ အ၁၁၆(ထ)ရင်းနှီးမြှုပ်နှံမှု/ ၂၀၀၃။
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ (၂၉)ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁-၂၀၀၃ ရက်စွဲပါ စာအမှတ်
ရက-၁/မ-သဘောထား/ ၂၀၀၂(၄၃၂၁-ဆ)။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အတွက်ပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နောက်ဆက်တွဲ(ဓ)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အားရရှိသုံးစွဲလျက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

၃။ အမှတ်စဉ်(၉)ပါ လုပ်ငန်းသစ်အားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆောင်ညွှန်ကြားရေးမှူး( ကိုယ်စား )
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

3/2/03


လိပ်စာ
၁၉၇ - ၁၉၉၊ ကြည့်မြင်တိုင်အောက်လမ်း၊
အလုံမြို့နယ်၊ ရန်ကုန်မြို့။

ကြေးနန်း
လျှပ်စစ်အဖွဲ့

တယ်လီဖုန်း
၂၂၂၀၆၆

<u>မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်း</u> ... အဆိုပြုချက် [illegible]

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | ဒူပါဖရင်း(န်) ရှစ်ပ် ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ဦးမောင်ထွေး (ခ) တန်ကောက်ဧဝ | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | လှိုင်သာယာမြို့နယ်၊ အမှတ် (၁၆၃)၊ ဇုန်(၂) မြင်းဝန်ဦးအောင်သူလမ်း | ၂၀၀ ကီလိုဝပ် | (၅၀၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည် |
| ၂။ | ရဲရင့်သော ရွှေနဂါးစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ဦးမြလွင် | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | ပဲခူးတိုင်း၊ အင်းတကော်ကျေးရွာ၊ စက်မှုဒေသ၊ ဦးပိုင်အမှတ်(၂၁)၊ ဝါးကောက်တောကွင်း၊ ကွင်းအမှတ် (၁၁၇၀-က) | ၄၀၀ ကီလိုဝပ် | (၁၆၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည် |
| ၃။ | ရောင်ခြည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ဦးအောင်လွင်ဦး | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | သယ်န်းကျွန်းမြို့နယ်၊ အမှတ် (၄၆၈)၊ မေဃဝတီကျောင်းလမ်း၊ ဆ/ခ ရပ်ကွက် | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 9967) ဖြင့် မြင်းကောင်ရေ (၄၀) ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည် |
| ၄။ | ကြိုးကြာဖြူအထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ဒေါ်သိဂ်ီဝင်း | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | လှိုင်မြို့နယ်၊ မြေကွက်အမှတ် (၁-ဟ) မြေတိုင်းရပ်ကွက်အမှတ် (၁၈/အေ) | ၄၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 12871) ဖြင့် မြင်းကောင်ရေ (၃၉) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည် |
| ၅။ | ရွှင်ပျော်အထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ဒေါ်မြင့်မြင့်ချို | CMPစနစ်ဖြင့်အထည်ချုပ် လုပ်ငန်း | လှိုင်မြို့နယ်၊ (၃) ရပ်ကွက်၊ ဘုရင့်နောင်လမ်း အမှတ်(၁၂) | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၁၀၀/၁၅၀) အင်ပီယာ (မီတာအမှတ်- 134041) ဖြင့် မြင်းကောင်ရေ (၁၃၃) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည် |

နောက်ဆက်တွဲ ( ၂ )

**"Super Friendship Manufacturing Co., Ltd."**

တပ်ဆင်အသုံးပြုသည့်စက်ပစ္စည်းများစာရင်း

| Sr. No. | Particulars | A/U | Qty | Unit Price (Kyat) | Value (Kyat) |
|---|---|---|---|---|---|
| | ယခင်ဝယ်ယူတပ်ဆင်ထားသောစက်ပစ္စည်းများ | | | | |
| 1. | DDL 888 Single Needle Sewing Machine | Nos. | 40 | 25,000 | 1,000,000 |
| 2. | Siruba 747 Overlock Machine | Nos. | 15 | 3,000 | 450,000 |
| 3. | Iron | Nos. | 2 | 1500 | 3,000 |
| | **Sub Total** | | | | **1,453,000** |
| | ထပ်မံဝယ်ယူတပ်ဆင်ထားသောစက်ပစ္စည်းများ | | | | |
| 4. | DDL 888 Single Neddle Sewing Machine | Nos. | 40 | 50,000 | 2,000,000 |
| 5. | MF 7605 Interlock Sewing Machine | Nos. | 6 | 275,000 | 1,650,000 |
| 6. | MFC 7605 Interlock Sewing Machine | Nos. | 2 | 285,000 | 570,000 |
| 7. | End Cutter | Set | 1 | 70,000 | 70,000 |
| 8. | Juki Overlock Machine | Set | 3 | 171,000 | 513,000 |
| 9. | Siruba 747 Overlock Machine | Nos. | 8 | 171,175 | 1,369,400 |
| 10. | Boiler + Fitting | Set | 1 | 4,674,625 | 4,674,625 |
| 11. | Table for Ironing | Set | 1 | 500,000 | 500,000 |
| 12. | Iron | Nos | 2 | 30,000 | 60,000 |
| | **Sub Total** | | | | **11,407,025** |
| | **Grand Total** | | **121** | | **12,860,025** |

အထက်ပါစက်ပစ္စည်းများ၏ ဈေးနှုန်းသည် လျော်ကန်သင့်မြတ်မှုရှိကြောင်းဝန်ခံကတိပြုပါသည်။

ဦးမောင်ထွေး
အုပ်ချုပ်မှုဒါရိုက်တာ

R-၃၀၁၄
၁၁/၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၄၆/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/ ၂၀၀၃။
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ (၂၉)ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁-၂၀၀၃ ရက်စွဲပါ စာအမှတ် - ရက-၁/မ-သဘောထား/ ၂၀၀၂(၄၃၂၁-ဆ)။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နောက်ဆက်တွဲ(ဂ)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အားရရှိသုံးစွဲလျှက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

၃။ အမှတ်စဉ်(၉)ပါ လုပ်ငန်းသစ်အားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

3/2/03

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | မူပါတရင်း(နီ) ရှစ်ပ် ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ဦးမောင်မေထွေး (ခ) ဟန်ကောက်ဆေ | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်သာယာမြို့နယ်၊ အမှတ် (၁၆၃)၊ ဇုန်(၂) မြင်းဝန်ဦးအောင်သူလမ်း | ၂၀၀ ကီလိုဝပ် | (၅၀၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | ရဲရင့်သော ရွှေနဂါးစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ဦးမြလွင် | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | ပဲခူးတိုင်း၊ အင်းတကော်ကျေးရွာ၊ စက်မှုဒေသ၊ ဦးပိုင်အမှတ်(၂၁)၊ ဝါးကောက်တောကွင်း၊ ကွင်းအမှတ် (၁၁၇၀-က) | ၄၀၀ ကီလိုဝပ် | (၁၆၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | ရောင်ခြည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ဦးအောင်လွင်ဦး | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | သင်္ဃန်းကျွန်းမြို့နယ်၊ အမှတ် (၄၆၈)၊ မေဃဝတီကျောင်းလမ်း၊ ဆ/ခ ရပ်ကွက် | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 9967) ဖြင့် မြင်းကောင်ရေ (၄၀) ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၄။ | ကြိုးကြာမြှုအထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ဒေါ်သိင်္ဂီဝင်း | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်မြို့နယ်၊ မြေကွက်အမှတ် (၁-ဟ) မြေတိုင်းရပ်ကွက်အမှတ် (၁၈/အေ) | ၄၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 12871) ဖြင့် မြင်းကောင်ရေ (၃၉) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၅။ | [illegible]ဖျော်အထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် [illegible]မြင့်ချို | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်မြို့နယ်၊ (၃) ရပ်ကွက်၊ ဘုရင့်နောင်လမ်း အမှတ်(၁၂) | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၁၀၀/၁၅၀) အင်ပီယာ (မီတာအမှတ်- 134041) ဖြင့် မြင်းကောင်ရေ (၁၃၄) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။
☎ တယ်လီဖုန်း - ၃၇၂၈၈၂၊ ၃၇၂၁၅၉၊ ၃၇၂၃၉၁

စာအမှတ်၊ ၇၈ - ၁/မ - သဘောတူ/၂၀၀၂(၄၂၂ - ၈)
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၆ ရက်။

အကြောင်းအရာ။ ။ သဘောတူ မှတ်ချက် တောင်းခံခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ကိုင်း ရင်းသားပိုင်မြန်မာ ကုမ္ပဏီများသည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ငန်းဆောင် ရွက်ခွင့်အတွက်အဆိုပြုလွှာများကို ဤကော်မရှင်သို့တင်ပြလျှောက်ထားလာပါသည်။ ယင်းလုပ် ငန်းဟောင်းများမှာ ကော်မရှင်ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲအကျဉ်းချုပ်လုပ်ငန်းဆောင် ရွက်လျက်ရှိပါသည်။

၂။ (၁၀-၁၀-၂၀၀၂) နေ့တွင်ကျင်းပသောပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရအဖွဲ့၏ (၃၇/၂၀၀၂) အစည်းအဝေး လမ်းညွှန်ချက်အရယင်းအဆိုပြု ချက်ပါစက်ရုံအလုပ်ရုံအတွက်လျှပ်စစ်ဓါတ်အား လိုအပ်ချက်ကိုသက်ဆိုင်ရာ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏သဘောတူ မှတ်ချက် ခံယူရန်လိုအပ်ပါသဖြင့် ဤကော်မရှင်သို့တင် ပြလာသည့်လုပ်ငန်း အဆိုပြုချက် (၁၀) ခုအပေါ် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ သဘော တူ မှတ်ချက်အား ပြန်ကြားပေးပါရန်အဆိုပြုလုပ်ငန်းများ နှင့်စပ်လျဉ်းသည့်အချက် အလက်များ အား ပူးတွဲပေးပို့လျက်ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးလင်း သော်၊ အတွင်း အရာရှိ)

ဝန်ကြီး ရုံး
လျှပ်စစ်စွမ်းအား ဝန်ကြီး ဌာန။

မိတ္တူ - ၁။ ဦး ဆောင်ညွှန်ကြား ရေး မှူး
မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း ။
၂။ ရုံး လက်ခံ
၃။ မျှောစာတွဲ

ဝင်း/

R - ၃၀၁၄
၃၁/၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၄၆/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/ ၂၀၀၃။
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ (၂၉)ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁-၂၀၀၃ ရက်စွဲပါ စာအမှတ် - ရက-၁/မ-သဘောထား/ ၂၀၀၂(၄၃၂၁-ဆ)။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နောက်ဆက်တွဲ(၈)ဦးမှာ လုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အားရရှိသုံးစွဲလျက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

၃။ အမှတ်စဉ်(၉)ပါ လုပ်ငန်းသစ်အားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး( )
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

3/2/03

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | စူပါဖရင်း(န်) ရှစ်ပ် ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ဦးမောင်ထွေး (ခ) တန်ကောက်ဝေ | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်သာယာမြို့နယ်၊ အမှတ် (၁၆၃)၊ ဇုန်(၂) မြင်းဝန်ဦးအောင်သူလမ်း | ၂၀၀ ကီလိုဝပ် | (၅၀၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | ရဲရင့်သော ရွှေနဂါးစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ဦးမြလွင် | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | ပဲခူးတိုင်း၊ အင်းတကော်ကျေးရွာ၊ စက်မှုဒေသ၊ ဦးပိုင်အမှတ်(၂၁)၊ ဝါးကောက်တောကွင်း၊ ကွင်းအမှတ် (၁၁၇၀- က) | ၄၀၀ ကီလိုဝပ် | (၁၆၀) ကေဗွီအေ ထရန်စဖော်မာ (၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | ရောင်ခြည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ဦးအောင်လွင်ဦး | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | သဃ်န်းကျွန်းမြို့နယ်၊ အမှတ် (၄၆၈)၊ မေဃဝတီကျောင်းလမ်း၊ ဆ/ခ ရပ်ကွက် | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 9967) ဖြင့် မြင်းကောင်ရေ (၄၀) ကောင် သုံးခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၄။ | ကြိုးကြာဖြူအထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ဒေါ်သိဂီဝင်း | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်မြို့နယ်၊ မြေကွက်အမှတ် (၁-ဟ) မြေတိုင်းရပ်ကွက်အမှတ် (၁၈/အေ) | ၄၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၅၀/၁၀၀) အင်ပီယာ (မီတာအမှတ်-XN- 12871) ဖြင့် မြင်းကောင်ရေ (၃၉) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၅။ | ရွှင်ပျော်အထည်အလိပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ဒေါ်မြင့်မြင့်ချို | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်မြို့နယ်၊ (၃) ရပ်ကွက်၊ ဘုရင့်နောင်လမ်း အမှတ်(၁၂) | ၃၀၀ ကီလိုဝပ် | ၃ သွင် ၄ ကြိုး (၁၀၀/၁၅၀) အင်ပီယာ (မီတာအမှတ်- 134041) ဖြင့် မြင်းကောင်ရေ (၁၃၄) ကောင် သုံးခွင့်ပြုထားသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

အတွေ့တွေ့ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

အကြောင်းအရာ။ ။ **စူပါဖရင်း(န်)ရှစ်(ပ်)ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(လုပ်ငန်းအဟောင်း)မှ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။**

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါဖရင်း(န်)ရှစ်(ပ်)ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Super Friendship Manufacturing Co., Ltd.) သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဦးဝင်းတင်၊ ဦးဝင်းဌေး၊ ဦးအေးနိုင်၊ ဦးဝင်းသိန်း၊ ဒေါ်သန်းသန်းဝင်းနှင့် ဒေါ်ခင်ခင်ဝင်း တို့အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြင်းဝန်ဦးအောင်သုလမ်း၊ မြေကွက်အမှတ်(၁၆၃)ရှိ မြေ(၁.၀၉၃)ဧကအနက်မှ မြေ(၀.၁၈)ဧက(၇၂၈.၄၃ စတုရန်းမီတာ) နှင့်ယင်းမြေပေါ်ရှိအဆောက်အဦကိုငှါးရမ်း၍ လုပ်ငန်းဆောင်ရွက်လျက်ရှိသော C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၄-၃-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး (၂၈-၃-၂၀၀၃) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၀/၂၀၀၃) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၄-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၃/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသား များရင်းနှီး မြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် ၁၂ တို့နှင့်အညီ စူပါဖရင်း(န်)ရှစ်(ပ်) ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Super Friendship Manufacturing Co., Ltd.) - သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၆-၅-၂၀၀၃။

ဥက္ကဋ္ဌ

